ကန့်သတ်

**ကုမ္ပဏီအမည်** - **Myanmar Juice Co., Ltd.**
**လုပ်ငန်း** - **သောက်ရေသန့်နှင့်အချိုရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၃၀-၃-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) ကျန်းမာရေးဝန်ကြီးဌာန | | ၂၀-၅-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၀-၄-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၆-၅-၂၀၁၅ | | |
| | (ခ) စက်မှုဝန်ကြီးဌာန | | ၁၃-၅-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၀-၄-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၆-၅-၂၀၁၅ | | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | | ၄-၅-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၀-၄-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၆-၅-၂၀၁၅ | | |
| | (ဃ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | | ၁၁-၅-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၀-၄-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၆-၅-၂၀၁၅ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၁၄/၂၀၁၅) သို့ တင်ပြခြင်း | ၁-၄-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၂-၄-၂၀၁၅ | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | ၂၂-၅ -၂၀၁၅ | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | **(၅၄) ရက်** | | |

ကန့်သတ်

ကန့်သတ်



ကုမ္ပဏီအမည် - Myanmar Juice Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - သောက်ရေသန့်နှင့် အချိုရည်ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

တည်နေရာ - အကွက်အမှတ် (၄၀)၊ ပျဉ်းမပင် စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ ၈.၆ ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၃.၀၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး ၃၀ နှစ် ၅ နှစ် ၂ ကြိမ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၁၂၇၈.၀၄ | ၅၄၂၈.၀၆ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၃၈၂.၈၅ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၂၆၂.၇၄ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၈)ဦး |
| ၈ | CSR (၂%) | | ၁၈၀.၅၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၅၀ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၂၇၉.၇၂ | ၇၂၅၆.၃၀ |
| ၁၁ | Cost : Benefit | ၁ : ၆ | |

ကန့်သတ်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Juice Co., Ltd. မှ သောက်ရေသန့်နှင့် အချိုရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar Juice Co., Ltd. |
| | ကမကထပြုသူ | - Mr. Jia Xinhua (တရုတ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Sunpak International Group Co., Ltd. ၇၀%<br>(Incorporated in Hong Kong)<br>- Sunpak International Group Co., Ltd. ၃၀%<br>(Incorporated in Myanmar) |
| | လုပ်ငန်းအမျိုးအစား | - သောက်ရေသန့်နှင့်အချိုရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - အကွက်အမှတ် (၄၀)၊ ပျဉ်းမပင် စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| | မြေပိုင်ရှင် | - ကာကွယ်ရေးဦးစီးချုပ်(ကြည်း) စစ်ထောက်ချုပ်ရုံး |
| | မြေအကျယ်အဝန်း | - ၈.၆ ဧက (၃၅၂၁၂.၆၂ စတုရန်းမီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ US$ ၃၁၈,၀၀၀<br>(တစ်စတုရန်းမီတာလျှင်US$ ၉.၀၃) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် ၅နှစ် ၂ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် နှင့် ၅နှစ် ၂ ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၆ လ |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US$ ၃.၀၀ သန်း |

| | US $ (သန်း) | | |
|---|---|---|---|
| | ပြည်တွင်း (US$) | ပြည်ပ (US$) | စုစုပေါင်း (US$) |
| Machinery & Equipment | ၀.၂၈ | ၁.၇၇ | ၂.၀၅ |
| Office Equipment | ၀.၀၂ | - | ၀.၀၂ |
| Building Renovation | - | ၀.၀၉ | ၀.၀၉ |
| Signature Bonus | - | ၀.၀၈ | ၀.၀၈ |
| Security Deposit | - | ၀.၁၆ | ၀.၁၆ |
| Working Capital | ၀.၆၀ | - | ၀.၆၀ |
| Total | ၀.၉၀ | ၂.၁၀ | ၃.၀၀ |

| | | |
|---|---|---|
| ၆။ | ပြည်ပမှအခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကို တင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - ၂၅၇ ဦး |
| | ပြည်တွင်း | - ၂၅၃ ဦး |
| | ပြည်ပ | - ၄ ဦး |
| | | (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ US$ ၂,၅၀၀ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ | - US $ ၁၀၇.၃၅ သန်း |

| | | |
|---|---|---|
| | (ဆဋ္ဌမမြောက်နှစ်) | |
| | အသုံးစရိတ် | - US $ ၉၉.၀၉ သန်း |
| | အသားတင်အမြတ် | - US $ ၈.၂၆ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်(ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၂.၇၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၅.၃၇ သန်း |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၉,၃၀၀,၀၀၀ kWh |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမ မြောက်နှစ်) | |
| ၁၃ | စိစစ်တွေ့ရှိချက် | - ငွေရေးကြေးရေး အထောက်အထားအဖြစ် ဟောင်ကောင်မှ Sunpak International Group Ltd. အမည်ဖြင့် Bank of China (Hong Kong) limited တွင် ၂၅-၉-၂၀၁၄ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၇၃၀,၆၁၅.၅၉ ရှိကြောင်း နှင့် မြန်မာနိုင်ငံမှ Sunpak International Group Co., Ltd. အမည်ဖြင့် |

| Particulars | Bottle Size | Price (Kyat) | Unit |
|---|---|---|---|
| Drinking Water | 380 mm | 80 | 15,768,000 |
| | 800 mm | 135 | 15,768,000 |
| | 1 Lit | 170 | 15,768,000 |
| | 5 Lit | 680 | 3,153,600 |
| | 20 Lit | 600 | 12,614,400 |
| **Juice** | | | |
| Orange, Mango, Strawberry, Grape, Passion, Peach, Mixed Fruit | 380 mm | 180 | 42,888,960 |
| | 450 mm | 230 | 42,888,960 |
| | 1.25 Lit | 700 | 42,888,960 |
| | 2 Lit | 1000 | 42,888,960 |

| | | |
|---|---|---|
| | | ဧရာဝတီဘဏ်တွင် ၁၄-၁၀-၂၀၁၄ ရက်စွဲဖြင့် မြန်မာကျပ် ၃၃,၁၆၈,၅၅၀ ရှိကြောင်း တင်ပြထားပါသည်။ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ တည်နေရာပြမြေပုံ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်း သာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု အစီအစဉ်များ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် ရပ်ရွာ အကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ် ရရှိသော အမြတ်ငွေမှ ၂% ကိုသုံးစွဲမည် ဖြစ်ကြောင်း ကတိဝန်ခံချက်တို့ကို တင်ပြ ထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။ |

၇

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၂၁၂ /၂၀၁၅ ( ၄၀၄ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Juice Co., Ltd. မှ သောက်ရေသန့်နှင့် အချိုရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ Sunpak International Group Co., Ltd. (Incorporated in Hong Kong) မှ ၇၀%နှင့် Sunpak International Group Co., Ltd. (Incorporated in Myanmar) မှ ၃၀% အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Juice Co., Ltd. တည်ထောင်၍ စစ်ထောက်ချုပ်ရုံးထံမှ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်က ငှားရမ်းထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်ရှိ စုစုပေါင်း မြေ (၅၆၀.၀၆) ဧက အနက်မှ အကွက် အမှတ် (၄၀) ရှိ မြေ ၈.၆ ဧက (၃၅၂၁၂.၆၂ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ စက်ပစ္စည်းအပါအဝင် အဆောက်အဦတို့ကို မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် မှ Myanmar Juice Co., Ltd. သို့ ထပ်ဆင့်ငှားရမ်း၍ သောက်ရေသန့်နှင့် အချိုရည် ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြန်မာ့ စီးပွားရေး ဦးပိုင်လီမိတက် နှင့် Myanmar Juice Co., Ltd. တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ Sunpak International Group Co., Ltd. (Incorporated in Hong Kong) နှင့် Sunpak International Group Co., Ltd. (Incorporated in Myanmar) တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement၊ မြေအထောက်အထားများနှင့် အဆောက်အဦဓာတ်ပုံတို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင် စက်မှုဇုန်ရှိ စုစုပေါင်း မြေ (၅၆၀.၀၆) ဧက အနက်မှ အကွက် အမှတ် (၄၀) ရှိ မြေ ၈.၆ ဧက (၃၅၂၁၂.၆၂ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ စက်ပစ္စည်းအပါအဝင် အဆောက်အဦတို့ကို တစ်စတုရန်း မီတာလျှင် အမေရိကန်ဒေါ်လာ ၀.၇၅ နှုန်းဖြင့် တစ်လငှားရမ်းခ အမေရိကန်ဒေါ်လာ ၂၆,၅၀၀ ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် နှင့် ၅နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၆လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်တွင်း (US$) | ပြည်ပ (US$) | စုစုပေါင်း (US$) |
|---|---|---|---|
| Machinery & Equipment | ၀.၂၈ | ၁.၇၇ | ၂.၀၅ |
| Office Equipment | ၀.၀၂ | - | ၀.၀၂ |
| Building Renovation | - | ၀.၀၉ | ၀.၀၉ |
| Signature Bonus | - | ၀.၀၈ | ၀.၀၈ |
| Security Deposit | - | ၀.၁၆ | ၀.၁၆ |
| Working Capital | ၀.၆၀ | - | ၀.၆၀ |
| Total | ၀.၉၀ | ၂.၁၀ | ၃.၀၀ |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် သောက်ရေသန့်နှင့်အချိုရည် ထုတ်လုပ်ရာတွင် ပြည်တွင်း ဝန်ထမ်း (၂၅၃)ဦး နှင့် ပြည်ပ (၄)ဦး ခန့်ထားမည်ဖြစ်ပါသည်။ (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ US$ ၂,၅၀၀ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။)

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော သောက်ရေသန့်နှင့်အချိုရည်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| Particulars | Bottle Size | Price (Kyat) | Unit |
|---|---|---|---|
| Drinking Water | 380 mm | 80 | 15,768,000 |
| | 800 mm | 135 | 15,768,000 |
| | 1 Lit | 170 | 15,768,000 |
| | 5 Lit | 680 | 3,153,600 |
| | 20 Lit | 600 | 12,614,400 |
| Orange Juice<br>Mango Juice<br>Strawberry Juice<br>Grape Juice<br>Passion Juice<br>Peach Juice<br>Mixed Fruit Juice | 380 mm | 180 | 42,888,960 |
| | 450 mm | 230 | 42,888,960 |
| | 1.25 Lit | 700 | 42,888,960 |
| | 2 Lit | 1000 | 42,888,960 |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | US $ ၁၀၇.၃၅ သန်း |
| (ခ) | အသုံးစရိတ် | - | US $ ၉၉.၀၉ သန်း |
| (ဂ) | အသားတင်အမြတ် | - | US $ ၈.၂၆ သန်း |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၂.၇၅ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၅.၃၇ သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာ လျှင် ၉၉၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြု လုပ်မည့်(သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၅၃)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင် စက်မှုဇုန်၊ အကွက်အမှတ်(၄၀)၊ မြေ ၈.၆၈ဧက (၃၅၂၁၂.၆၂၈စတုရန်းမီတာ) ပေါ်ရှိ စက်ရုံအဆောက်အဦကို တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅ နှုန်းဖြင့် (၁၀+၅+၅)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၇-၅-၂၀၁၅ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၂/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၁)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း စီမံချက်ရေးဆွဲခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှုအတွက် အမြတ်ငွေ၏ ၂% အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊ ကုန်ကြမ်းအသုံးပြုမည့် ဖျော်ရည်များအား စနစ်တကျသန့်ရှင်းစွာ သိုလှောင်ထားရှိရန် နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ်အရည်နှင့် ပစ္စည်းများအတွက် စွန့်ပစ်အရည်/ ပစ္စည်းစီမံခန့်ခွဲမှု အစီအမံများ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊ အဆိုပြုစီမံကိန်း

လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ရေးဆွဲတင်ပြရန်နှင့် IEE လေ့လာ ဆန်းစစ်ချက်အရ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) အစီရင်ခံစာရေးဆွဲတင်ပြရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့် စနစ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝင်ကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan –EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန် စံညွှန်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် Environmental Management Plan (EMP) အစီရင်ခံစာတို့ကို Green Enviro Services Ltd. မှ ရေးဆွဲနေပြီဖြစ်ကြောင်း ပြီးစီးပါက ကော်မရှင်သို့ တင်ပြသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။]** **နောက်ဆက်တွဲ-ခ**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ - ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု ကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှု မှတ်ပုံတင်ဆောင်ရွက်ရန်၊ တင်သွင်းမည့် စက်ပစ္စည်းစာရင်း သင်လျော်မှု ရှိသော်လည်း ဓာရမ်းသုံးစွဲမည့် စက်ပစ္စည်းစာရင်း ဖော်ပြပေးရန် နှင့် ကုန်ကြမ်းသုံးစွဲမှုတွင်

အချိုရည်ကုန်ကြမ်းများတွင် သကြားသုံးစွဲမှု ဖော်ပြပေးရန် သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။

[ကုမ္ပဏီမှ **စက်မှုဝန်ကြီးသဘောထားနှင့်အညီ** နှင့် ကုန်ကြမ်းသုံးစွဲမှုတွင် အချိုရည် ကုန်ကြမ်းများအတွက် သကြားသုံးစွဲမှုအား ပြင်ဆင်ဖြည့်စွက် ဖော်ပြထားပါသည်။]

**နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဟောင်ကောင်မှ Sunpak International Group Ltd. အမည်ဖြင့် Bank of China (Hong Kong) limited တွင် ၂၅-၉-၂၀၁၄ ရက်စွဲဖြင့် အမေရိကန် ဒေါ်လာ ၇၃၀,၆၁၅.၅၉ ရှိကြောင်း နှင့် မြန်မာနိုင်ငံမှ Sunpak International Group Co., Ltd. အမည်ဖြင့် ရေဝတီဘဏ်တွင် ၁၄-၁၀-၂၀၁၄ ရက်စွဲဖြင့် မြန်မာကျပ် ၃၃,၁၆၈,၅၅၀ ရှိကြောင်း တင်ပြထားပါသည်။ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ တည်နေရာပြမြေပုံ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်း သာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု အစီအစဉ်များ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် ရပ်ရွာ အကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ်နှစ်စဉ် ရရှိသော အမြတ်ငွေမှ ၂% ကိုသုံးစွဲမည် ဖြစ်ကြောင်း ကတိဝန်ခံချက်တို့ကို တင်ပြ ထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၄/၂၀၁၅ (၆-၄-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

**၁၅။** စစ်ထောက်ချုပ်ရုံးထံမှ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်က ငှားရမ်းထားသည့် ရန်ကုန် တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင် စက်မှုဇုန်ရှိ စုစုပေါင်း မြေ (၅၆၀.၀၆) ဧက အနက်မှ အကွက် အမှတ် (၄၀) ရှိ မြေ ၈.၆ ဧက (၃၅၂၁၂.၆၂ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ စက်

ပစ္စည်းအပါအဝင် အဆောက်အဦတို့ကို ရွှေနေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် မှ Myanmar Juice Co., Ltd. သို့ ထပ်ဆင့်ငှားရမ်း၍ အဆိုပြု လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Juice Co., Ltd.တည်ထောင်၍ သောက်ရေသန့်နှင့် အချိုရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



F:\Myanmar Juice\MIC\Memo.doc




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / သစ်စွမ်း

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မေ လ ၁၁ ရက်

MIC, 42/1315 သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀. ၄. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကက - ၂/ န-၂၁၂ / ၂၀၁၅ (၂၇၆)

၁။ Sunpak International Group Co., Ltd. (Incorporated in Hong Kong) မှ ၇၀%နှင့် Sunpak International Group Co., Ltd. (Incorporated in Myanmar) မှ ၃၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Juice Co., Ltd. တည်ထောင်၍ စစ်ထောက်ချုပ်ရုံးထံမှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က ငှားရမ်းထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်ရှိ စုစုပေါင်း မြေ(၅၆၀. ၀၆)ဧကအနက်မှ အကွက်အမှတ်(၄၀)ရှိ မြေ ၈. ၆ ဧက (၃၅၂၀၂. ၆၂ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ စက်ပစ္စည်းအပါအဝင် အဆောက်အဦတို့ကို မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ Myanmar Juice Co., Ltd. သို့ ထပ်ဆင့်ငှားရမ်း၍ သောက်ရေသန့်နှင့် အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၅၃)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်၊ အကွက်အမှတ်(၄၀)၊ မြေ ၈. ၆ ဧက (၃၅၂၀၂. ၆၂ စတုရန်းမီတာ)ပေါ်ရှိစက်ရုံအဆောက်အဦကို တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် USD ၁၇. ၅ နှုန်း၊ မြေလွတ်ကို တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် USD ၅ နှုန်းဖြင့် (၃၀+၅+၅)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၇. ၅. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၂/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၁)အရ Myanmar Juice Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Juice Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/22.,(2)

ဘောက်တော်တွဲ - ၁



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MIC, 37 7/5
NPT_ 2573
6.5.15

စာအမှတ် ၂/၂၂၀(ခ)(၆) ( ၂၁၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ မေလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န -၂၁၂ / ၂၀၁၅ (၂၇၇)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Sunpak International Group Co.,Ltd (Incorporated in Hong Kong) မှ ၇၀% နှင့် Sunpak International Group Co.,Ltd (Incorporated in Myanmar)မှ ၃၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Juice CO.,Ltd တည်ထောင်၍ စစ်ထောက်ချုပ်ရုံးထံမှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က ငှားရမ်းထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမ ပင်စက်မှုဇုန်ရှိ စုစုပေါင်းမြေ (၅၆၀.၀၆) ဧကအနက်မှ အကွက်အမှတ်(၄၀) ရှိမြေ (၈.၆) ဧက (၃၅၂၁၂.၆၂ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ စက်ပစ္စည်းအပါ အဝင်အဆောက်အဦတို့ကို မြန်မာ့ စီးပွားရေးဦးပိုင်လီမိတက်မှ Myanmar Juice Co.,Ltd သို့ ထပ်ဆင့် ငှားရမ်း၍ သောက်ရေသန့်နှင့် အချိုရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်၊ ပတ်ဝန်းကျင်ကာကွယ်ရေးနှင့်စီမံခန့်ခွဲမှု၊ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ရရှိမည့်အသားတင်အမြတ်ငွေမှ (၂)%အား လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အတွက် သုံးစွဲမည်ဖြစ်ကြောင်း၊ ရင်းနှီး မြှုပ်နှံမှုကာလမှာ (၃၀)နှစ်ဖြစ်ပြီး (၅) နှစ်သုံးကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ကြောင်း၊ ထုတ်ကုန် ပစ္စည်းများအနေဖြင့် တစ်နှစ်လျှင် သောက်ရေ (၂၄,၃၈၇,၈၄၀)ပုလင်းမှ (၆၃,၀၇၂,၀၀၀)ပုလင်း၊ အချိုရည် (၇၄၈၄၅၄၄၀) ပုလင်းမှ (၂၃၄၆၂၇၈၄၀) ပုလင်း နှစ်အလိုက် တိုးမြှင့်ထုတ်လုပ်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် ဖျော်ရည်များအား စနစ်တကျ သန့်ရှင်းစွာ သိုလှောင်ထားရှိမှုမရှိပါက မှိုများ၊ ဘက်တီးရီးယားများနှင့် ပိုးမွှားများဝင်ရောက်နိုင်သဖြင့် စားသုံးသူ တို့၏ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများနှင့် ထုပ်ပိုးရာတွင် အသုံးပြုမည့် Plasticများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စီမံခန့်ခွဲခြင်းမရှိပါက ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ ၊ တစ်နှစ်လျှင် ရေ (၂၄၀,၀၀၀,၀၀၀) လီတာ အသုံးပြုမည်ဖြစ်သဖြင့် ရေရရှိသုံးစွဲမှု စနစ်တကျ စီမံခန့်ခွဲခြင်းမရှိပါက ပတ်ဝန်းကျင် ထိခိုက်မှုဖြစ်စေနိုင်ခြင်းစသော ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ Sunpak International Group Co.,Ltd (Incorporated in Hong Kong) မှ ၇၀% နှင့် Sunpak International Group Co.,Ltd (Incorporated in Myanmar)မှ ၃၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် Myanmar Juice CO.,Ltd တည်ထောင်၍ စစ်ထောက်ချုပ်ရုံးထံမှ မြန်မာ့စီးပွား ရေးဦးပိုင်လီမိတက်က ငှားရမ်းထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင် စက်မှုဇုန်ရှိ စုစုပေါင်းမြေ (၅၆၀.၀၆) ဧကအနက်မှ အကွက်အမှတ်(၄၀) ရှိမြေ (၈.၆) ဧက (၃၅၂၁၂.၆၂ စတုရန်းမီတာ)နှင့်ယင်းမြေပေါ်ရှိ စက်ပစ္စည်းအပါ အဝင်အဆောက်အဦတို့ကို မြန်မာ့ စီးပွားရေး ဦးပိုင်လီမိတက်မှ Myanmar Juice Co.,Ltd သို့ ထပ်ဆင့် ငှားရမ်း၍ သောက်ရေသန့်နှင့် အချိုရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများလျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်ရေးဆွဲခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တို့အတွက်ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြ ပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များ နှင့်စက်ကိရိယာများ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှုအတွက် အသားတင် အမြတ်ငွေ၏ (၂%)အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဖျော်ရည်များအား စနစ်တကျသန့်ရှင်းစွာ သို လှောင်ထားရှိရန် နှင့်လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ် အရည်

နှင့်ပစ္စည်း များအတွက် စွန့်ပစ်အရည်/ ပစ္စည်းစီမံခန့်ခွဲမှုအစီအမံများ၊ ပြန်လည်သုံးစွဲမည့်စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(ဂ) အဆိုပြုစီမံကိန်း လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Env- ironmental Examination – IEE) ရေးဆွဲတင်ပြရန်နှင့် IEE လေ့လာဆန်းစစ်ချက်အရ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment -EIA) အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊

(ဃ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင်ပါရှိသည့်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(စ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူလူထုတို့၏ဆန္ဒနှင့် သဘောထားမှတ်ချက်များ ရယူဆောင်ရွက်ရန်။

၅/၅/၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

၁၀၁ ၅၇ / ၁၀/၅



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၈မခ(က)၂၀၁၅/ ၉၀၃၇

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ( ၁၉ )ရက်



မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၄-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၂/န-၂၀၂/၂၀၁၅(၂၇၈)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ Sunpak International Group (Incorporated in Hong Kong) မှ (၇၀%)နှင့် Sunpak International Group (Incorporated in Myanmar) မှ (၃၀%)အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Juice Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်၊ အကွက်အမှတ်(၄၀) မြေပေါ်ရှိ စက်ပစ္စည်းအပါအဝင် အဆောက်အဦတို့ကို ငှားရမ်း၍ သောက်ရေသန့်နှင့် အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ပါသဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါအကြောင်းကြားချက်အရ စိစစ်ခဲ့ရာ Myanmar Juice Co., Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် -

(က) သောက်ရေသန့်လုပ်ငန်းနှင့်ပတ်သက်၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် အမှတ်(၄၀)၊ အမှတ်(၃)လမ်းမကြီး၊ ပျဉ်းမပင်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့ရှိ မြနန္ဒာသောက်ရေသန့်စက်ရုံကို အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ အစားအသောက်ထုတ်လုပ်ခြင်း ထောက်ခံချက်(ထောက်ခံချက်အမှတ်၊ စ၁/၁၀၄၁၉/ထလ) ထုတ်ပေးပြီးလုပ်ငန်းဖြစ်ပါသဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ခွင့်ပြုသင့်ပါသည်၊

(ခ) အချိုရည်လုပ်ငန်းနှင့်ပတ်သက်၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် အမှတ်(၄၀)၊ အမှတ်(၃)လမ်းမကြီး၊ ပျဉ်းမပင်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့ရှိ Tip Top အမှတ်တံဆိပ် အချိုရည်လုပ်ငန်းအတွက် (၁၇-၁၂-၂၀၁၄)ရက်နေ့တွင် အစားအသောက်ထုတ်လုပ်ခြင်း ထောက်ခံချက်ကို အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနသို့ လျှောက်ထားသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ စိစစ်လျက်ရှိပြီး အဆိုပါအချိုရည်လုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍ ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

Ministry(ZCH-2015



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊၂၁-စမ(၂)၂၀၁၅-၂၀၁၆(၄၁၉)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၁၃ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀.၄.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၂၁၂/၂၀၁၅ (၂၇၉)

၁။ Myanmar Juice Co.,Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်၊ မြေကွက်အမှတ် (၄၀)တွင် သောက်ရေသန့်နှင့် အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး သောက်ရေသန့်နှင့် အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) အမျိုးသားအစားအသောက်ဥပဒေနှင့် အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန၏ အစားအသောက်ထုတ်လုပ်ခြင်း ထောက်ခံချက်လက်မှတ် ရရှိရန် လိုအပ်ပါသည်။

(ဂ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) တင်သွင်းမည့်စက်ပစ္စည်းစာရင်း သင့်လျော်မှု ရှိသော်လည်း ငှားရမ်းသုံးစွဲမည့် စက်ပစ္စည်းစာရင်း ဖော်ပြထားခြင်းမရှိပါ။

(ဆ) ကုန်ကြမ်းသုံးစွဲမှုတွင် ပလတ်စတစ်ကုန်ကြမ်းသုံးစွဲမှု သင့်လျော်မှုရှိသော်လည်း အချိုရည်ကုန်ကြမ်းများတွင် သကြားသုံးစွဲမှု ဖော်ပြထားခြင်းမရှိပါ။

၃။ သို့ပါ၍ Myanmar Juice Co.,Ltd. မှ သောက်ရေသန့်နှင့် အချိုရည်ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း